بسم الله الرحمن الرحيم

## စာအုပ်အကြောင်း ........

စာရှု့သူလက်ဝယ်ရှိ ဤစာအုပ်ငယ်သည် face book စာမျက်နှာ တစ်ခု ဖြစ်သော "အလင်းလမ်း" တွင် ရမ်ဇန့်အလင်း ဟူသည့်ခေါင်းစဉ်ဖြင့် တင်ဆက်ရန် ရေးသားထားသည့် ဆောင်းပါများကို ပြန်လည်စုစည်း ထားခြင်း ဖြစ်သည်။ ကျွန်ုပ်၏ ချစ်လှစွာသော မိတ်ဆွေ ဟာဂျီဦးလှမြင့် (ချယ်ရီ-ကုန်မာ) မှ စာအုပ်အဖြစ်ထုတ်ဝေရန် အကြံပြုလာသဖြင့် တက်သုတ်ရိုက်စာအုပ်ငယ် အဖြစ် စီစဉ်လိုက်ခြင်းဖြစ်သည်။

စာအုပ်ပါအကြောင်းအရာများကိုကျမ်းအချို့မှကောက်နုတ်တင်ပြထားပါသည်။ လွယ်ကူသလိုကျမ်းကိုးများကိုလည်း တွဲလျှက်ဖော်ပြထားပါသည်။ ထိုကျမ်းညွှန်းများကို အရဗီ font ပြဿနာကြောင့် အရဗီဖြင့် မရေးသားတော့ဘဲ မြန်မာလိုသာ ဖော်ပြလိုက်ရပါသည်။

ဤစာအုပ်ငယ်တွင် ရမ်ဇန်လ စတင်ချိန်မှ ရှောင်ဝလ်လမြတ်၏ (၆) လုံး ရိုဇာ ထားပြီးသည့်အချိန်ထိ မွတ်စ်လင်မ်တစ်ဦးအဖို့ ကျင့်ရန်ကြဉ်ရန်များကို အကျဉ်းရုံး ဖော်ပြထားပါသည်။

စာအုပ်ငယ်၏ အချို့သော ဆောင်းပါးများကို စိတ်ရှည်လက်ရှည် စီစစ် ပေးခဲ့သော ကျေးဇူးရှင်ဆရာသခင် မွတ်ဖ်သီ မုဟမ္မဒ်ဖာရူးက် (နဒ်ဝီ) အား လည်းကောင်း၊ တစ်အုပ်လုံးကို ပြန်လည်စီစစ်ပေးခဲ့သော ချစ်မိတ်ဆွေ မွတ်ဖ်သီ မုဟမ္မဒ် အဖ်ဇလ် အားလည်းကောင်း၊ စာအုပ်၏ layoutပိုင်းကို တာဝန်ယူပေးခဲ့သော ဆရာဟာဖိဇ်ဆိုလိုင်မာန် (ရွှေစံပယ်) နှင့် စာအုပ် ထုတ်ဝေနိုင်ရန် ကူညီပံ့ပိုးပေးခဲ့သော ဟာဂျီဦးလှမြင့် (ချယ်ရီ) တို့ကိုလည်း အထူးကျေးဇူးတင်ရှိပါသည်။

ထို့အတူ ဤစာအုပ်ငယ်အား ဖတ်ရှုပြီးပြုကျင့်သမျှဆဝါးဗ်အလုံးစုံတို့ကို ကျွန်ုပ်တို့၏ ကျေးဇူးရှင်ကိုယ်တော်မြတ်ကြီး (ဆွလ္လာဟုအလိုင်းဟိဝစလ္လမ်) ၊ ဆွဟာဗာသာဝကကြီးများ၊ ကျွန်ုပ်တို့ထံ ဒီးန်ရောက်ရှိရန် အကြောင်းခံ အဖြစ် ပါဝင်ခဲ့သော သူတော်မွန်သူတော်မြတ်များ၊ ကျွန်ုပ်တို့၏ မိဘများနှင့် ဆရာသမားများ၊ ဟာဇရသ်အာဒမ်လက်ထက်မှ ယခုအချိန်ထိ ကွယ်လွန် သွားကြသော အရ်ဝါးဟ် အားလုံးတို့အား ပို့သပေးရန်အရှင်မြတ်ထံ ဆုပန် ပါသည်။

မုဟမ္မဒ် အာစွင်းမ် (နဒ်ဝီ၊အဗ္ဗလ်ဟာစနီ၊မဇ္ဇာဟေ့ရီ)<br>(၂၃-၆-၂၀၁၅)

## ((ဘဝတာတစ်ခုလုံးအတွက် တစ်လတာ ကုထုံး))

အရှင့်ဂရုဏာမိုးများ အစဉ် ရွာသွန်းဖြိုးမည့် လမြတ်ရမ်ဇန်သည်ကျွန်ုပ်တို့ထံ တဖန်ရောက်ရှိလာပေပြီ။ ဤလမြတ်သည် ကျွန်ုပ်တို့ဘဝ ပြုပြင်ရန်အလွန် အရေးပါသော လ တစ်လဖြစ်သည်။ ဤလမြတ်တွင် ပြုကျင့်သော နမားဇ်၊ ရိုဇာ၊သေလာဝသ်၊ဇိကိရ်၊ သောဝ်ဗဟ် စသည်တို့ကို ကျန်ရှိသည့် လများတွင်လည်းဆက်လက်ပြုကျင့်နေရမည်။ ထို့ကြောင့် ဤလမြတ်သည် ကျွန်ုပ်တို့၏ **ဘဝတာတစ်ခုလုံး အတွက် တစ်လတာကုထုံး** သာဖြစ်သည်။

## ရမ်ဇန်လမြတ်ကို မည်သို့ကုန်ဆုံးမည်နည်း

ထို့ကြောင့် ဤလမြတ်ကို စနစ်တကျကုန်ဆုံးနိုင်ရန် အစီအစဉ်အချို့ ပြုလုပ်ရမည်။ ထိုအစီအစဉ်များမှာ ----

(၁) ကျွန်ုပ်တို့၏ (၂၄) နာရီကို အချိန်ဇယားဆွဲပြီး ကုန်ဆုံးရမည်။ ထိုအချိန်ဇယားတွင် အရှင့်ဝတ္တရားများ၊ မိမိတစ်ကိုယ်ရည်ဆိုင်ရာ ဝတ္တရားများနှင့်ကျေးကျွန်အပေါင်းတို့၏ ဝတ္တရားများကို ဖြည့်ဆည်းရန် သောက ထားရမည်။ အရှင့်ဝတ္တရားများမှာ ရိုဇာဥပုသ်စောင့်ထိန်းခြင်း၊ သရာဝီးဟ် နမားဇ် ဆောက်တည်ခြင်းစသည်ဖြင့် ထိုကိစ္စများကို အပြည့်အဝ ဆောက်တည်နိုင်ရန်လည်း စာအုပ်စာပေများကို လေ့လာမှတ်သားလိုက်နာ ရမည်။

မိမိနှင့်သက်ဆိုင်သော ဝတ္တရားအချို့မှာ အမြဲအိစ်သေ့ဂ်ဖားရ် အရှင်မြတ်ထံ အမှားများကို ဝန်ချတောင်းပန်နေရမည်။ နဖိလ်နမားဇ် များကိုလည်း များစွာ ဆောက်တည်ရမည်။ ကုရ်အာန်သေလာဝသ်လည်းအမြဲပြုလုပ်နေရမည်။ အနည်းဆုံး (၁) ခသမ်ပြီးမြောက်သည်အထိကြိုးစားရမည်။ ကုရ်အာန် မဖတ်တတ်ပါက ဤလမြတ်မှပင်စတင် သင်ယူရမည်။ ကုရ်အာန်

ဖတ်တတ်လျှင် သင်္ဂြိုဟ်ဉပဒေများနှင့်အညီ ဖတ်နိုင်ရန် ဆက်လက်သင်ယူရမည်။ သင်္ဂြိုဟ် ဥပဒေများနှင့်အညီ ကုရ်အာန်ဖတ်ရွတ်ခြင်းနှင့်အတူ ကုရ်အာန်ကိုလည်း လေ့လာသင့်ပါသည်။ အရှင်မြတ်အားအမြဲသတိရတသနေရမည်။ အထူးသဖြင့် ကလိမဟ်သွိုက်ယေ့ဗာ (လာအိလာဟ အိလ္လာဟ်မုဟမ္မဒ်ရ် ရစူလွလ္လာဟ်) ကိုများစွာဖတ်နေရမည်။ ထို့အတူ အကုသိုလ်အသေး/အကြီးတို့မှ ရှောင်ကြဉ် နိုင်ရန်လေ့ကျင့်နေရမည်။ အချိန်တိုင်းတွင်လည်း အရှင်မြတ်ထံ မိမိလိုအင် ဆန္ဒများနှင့် အွမ္မသ်ထု တစ်ရပ်လုံးအတွက် ဒိုအာဆုမွန်ကောင်းများ တောင်း နေရမည်။ သာသနာနားလည်သော ပညာရှင်များနှင့်တိုင်ပင်ပြီး သာသနာ့ စာအုပ်စာပေများကိုလည်း စဉ်ဆက်မပြတ်လေ့လာနေရမည်။ အထူးသဖြင့် ဟဇရသ် ရှိုင်ခ်ရေးသားသော (ဖဇာအေ့လေ့ရမ်ဇာန်) ကိုလေ့လာသင့်ပါသည်။

အခြားသူများနှင့်ပတ်သက်သောဝတ္တရားများမှာ --

မိမိနှင့်အနီးစပ်ဆုံးသူမှစ၍ ကောင်းရာညွှန်ကြား မကောင်းမြစ်တားအလုပ်ကို စတင်ရမည်။ တစ်ဦးတစ်ယောက်ကိုမှ မိမိနှုတ်နှင့် ဖြစ်စေ၊ လုပ်ရပ်နှင့်ဖြစ်စေ ဒုက္ခမပေးရ။ အထူးသဖြင့် အတင်းမပြောရ။ ရိုဇာစောင့်ထိန်းစဉ် ကာလသည် ထိလွှယ်ရှလွယ်ကာလဖြစ်သောကြောင့် ဆွဗ်ရ်သီးခံခြင်းတရားကို လက်ကိုင် ထားရမည်။

ဤနည်းအတိုင်းလမြတ်ရမ်ဇန်တွင် ကျင့်ကြံနေထိုင်ပြီး မိမိကိုယ်မိမိ ရှရီအသ်ပုံစံခွက်ထဲထည့်ကာ ဤပုံစံခွက်ကိုမယွင်းစေဘဲ တသက်တာထိန်းသိမ်းစောင့်ရှောက်နိုင်စွမ်းအရှင်မြတ်အားလုံးကိုချီးမြှင့်ပေးသနားတော်မူပါစေ။ ထို့အတူ ဤတစ်လတာကိုလည်း ကျွန်ုပ်တို့ ဘဝတာတစ်ခုလုံးအတွက် ထိရောက်လှစွာသော ကုထုံးအဖြစ်ပြုလုပ်ပေးသနားတော်မူပါစေ။ အာမီးန်

## ရမ်ဇာန်ဟူသည်

ရမ်ဇာန်ဆိုသည်မှာ အရဗီစာပေတွင် လောင်ကျွမ်းစေခြင်း ဟူ၍ ဖြစ်သည်။ ပူပြင်းသောလများတွင် ရမ်ဇာန်သည် ကျရောက်လေ့ရှိသောကြောင့် အာရဗ်တို့က ဤသို့အမည်ပေးခဲ့သည်။
ကိုယ်တော်မြတ်ကြီး (ဆွလ္လလ္လာဟုအလိုင်းဟေ့ဝစလ္လမ်) အား ဤသို့အမည်ထားခြင်းနှင့်စပ်လျဥ်း၍ သာဝကကြီးများက မေးလျှောက်ကြရာ(ဤလသည်မိမိ၏ ဘရ်ကသ်ဖြင့် လူသားတို့၏ အကုသိုလ်များကို လောင်ကျွမ်းပစ်စေသောကြောင့်ဖြစ်သည်)ဟု မိန့်ကြားခဲ့သည်။ အချုပ်ဆိုရသော် ဤလမြတ်သည် လူသားတို့၏ အကုသိုလ်များကို ချွတ်ပေးသော လ ဖြစ်သည်။

(ကန်ဇွလ်အွမ္မာလ်ကျမ် ៖ ၂၄၂၉၃)

## ထွဋ်မြတ်လှတဲ့ ရမ်ဇန်လ

ရမ်ဇာန်လမြတ်သည်အခြားသောလများထက် ထွဋ်မြတ်သည်။ အဘယ်ကြောင့်ဆိုသော် ဤလမြတ်တွင် (၁) ကုရ်အာန်ကျမ်းတော်မြတ်ကျရောက်ခဲ့သည်။မွတ်စ်နဒ်အဟ်မဒ်ကျမ်းလာ ဟဇရသ် ဝါဆေ့လဟ်သခင်၏ ဆင့်ပြန်ချက်အရ ကောင်းကင်ကျကျမ်းတိုင်းသည် ရမ်ဇန်လမြတ်တွင်သာ ကျရောက်ခဲ့သည် ဟုလာရှိထားသည်။ (၂) ရိုဇာဥပုသ်စောင့်ထိန်းခြင်း ဖရ်ဇ်ဖြစ်သည်။ (၃) လပေါင်း တစ်ထောင်ထက်သာမြတ်သော ကဒ်ရ်ညဥ့်မြတ်ရှိသည်။ (၄) သရာဝီးဟ်နမားဇ်ကို ဝတ်ပြုရသည်။ (၅) ဖရ်ဇ်တစ်ကြိမ် ဆောင်ရွက်ခြင်းသည် (၇၀) ဆောင်ရွက်ခြင်း၏ အကျိုးရရှိပြီး၊ နဖိလ်တစ်ကြိမ်ဆောင်ရွက်ခြင်းသည် အခြားလများတွင် ဖရ်ဇ်

တစ်ကြိမ်ဆောင်ရွက်ခြင်း၏ အကျိုးရရှိမည်။ ထို့အတူ အခြားသော ထူးခြားချက်များလည်း ရှိပါသေးသည်။ ယင်းတို့ကို ဟာဇရသ် ရှိုင်ခ်ရေးသား ပြုစုထားသော (ဖဇာအေ့လေ့ရမ်ဇာန်) တွင် အသေးစိတ် လေ့လာနိုင် ပါသည်။

## ရမ်ဇန်လမြတ်နှင့် ရိုဇာဥပုသ်စောင့်ထိန်းခြင်း

အထက်တွင် ဖော်ပြခဲ့သည့်အတိုင်းပင် ဤလမြတ်၌ ရိုဇာဥပုသ် စောင့်ထိန်းခြင်းသည် ဖရ်ဇ်ဖြစ်သည်။ ရိုဇာဟူသည် ဖာရစီစာပေတွင် နေ့စဉ် မပြတ် ဟုအဓိပ္ပါယ်ဖော်ဆောင်သည်။ အရဗီစာပေတွင်ရိုဇာကို ဆောင်ဝ်မ် ဟုသုံးစွဲသည်။ ဆောင်ဝ်မ် ဆိုသည်မှာ ထိန်းချုပ်ခြင်း ဟူ၍ဖြစ်သည်။ ရှရီအသ် တရားတော်မြတ်တွင် ဆောင်ဝ်မ်ဟူသည်မှာ နံနက် မိုးသောက်လင်းချိန်မှ နေဝင်ချိန်ထိ နီယသ်ရည်စူးချက် နှင့်တကွ စားခြင်း၊ သောက်ခြင်း၊ သံဝါသပြုခြင်းတို့မှ မိမိကိုယ်မိမိ ထိန်းချုပ်ခြင်းကို ခေါ်ဆိုသည်။

(အတ်ဒ္ဒရ်ရွလ်မုခ်သားရ် - ၂ း ၃၇၁)

## ရိုဇာဖရ်ဇ်ဖြစ်ခြင်းနှင့် နောက်ခံသမိုင်း

ရိုဇာစောင့်ထိန်းရန် ဖရ်ဇ်အမိန့်တော်သည် ဟစ်ဂျ်ရီ (၂)ခုနှစ်၊ရှအ်ဗာန်လ ၃ရက် တနင်္လာနေ့တွင် ကျရောက်ခဲ့သည်။ ထိုအချိန်သည် ဟစ်ဂျ်ရသ် ပြုလုပ်ပြီး နောက် အွမ္မသ်အပေါ် ဒုက္ခ၏မိုးတိမ်များ ပပျောက်သွားချိန်လည်း ဖြစ်သည်။ ထို့အတူ ရိုဇာစောင့်ထိန်းရန်လာရှိသော ကုရ်အာန့်အမိန့်တော် သည်လည်း အီမာန်ပြည့်ဝပြီး၊ နမားဇ်ကိုလည်း အနစ်သာရရှိရှိ

ဖတ်နိုင်နေသောအချိန်၊ သို့သာမက မွတ်စ်လင်မ် တိုင်းသည် အရှင်မြတ်၏ အမိန့်တော်တိုင်းကို လိုက်နာရန် အသင့်ဖြစ်နေချိန်တွင်ကျရောက်ခဲ့ပါသည်။ ရိဗာဖရ်ဖ်ဖြစ်ခြင်းကို ဆောင်ကျဉ်းလာသောအာယသ်တော်သည်လည်း အမိန့် သက်သက် အာဂါာစက်ပေါ်တွင် အခြေမခံပါ။ သို့သာမက အီမာန်နှင့်အကီဒဟ်၊ ဦးနှောက်နှင့် စိတ်ဓါတ်၊ နှလုံးသားနှင့် စိတ်ထား များအား နိုးထစေပြီး ရမ်ဖန်လမြတ်အား ကြိုဆိုချင်စိတ်များကို တဖွားဖွား ပေါ်ပေါက်စေပါသည်။ ထိုအာယသ်တော်မြတ်မှာ ---

အိုအီမာန် သက်ဝင်ယုံကြည်သူအပေါင်းတို့ - အသင်တို့ အလျင်ပွင့်ပေါ် ခဲ့သော လူမျိုးစုများအပေါ်ဥပုသ်သီလစောင့်ထိန်းခြင်း ကို သတ်မှတ်ပြဌာန်း ပေးခဲ့သည့်အတိုင်း အသင်တို့အပေါ်တွင်လည်း ကြဉ်ရှောင်သူများဖြစ်နိုင်ရန် သတ်မှတ် ပြဌာန်းပြီးဖြစ်လေသည်။ ရိဗာစောင့်ထိန်းရမည့် ရက်များသည် အနည်းငယ်သာဖြစ်သည်။ အကယ်၍ အသင်တို့အနက် တစ်ဦး တစ်ယောက်သည် နာမကျန်းဖြစ်လျှင်သော်လည်းကောင်း၊ ခရီးထွက် နေလျှင်သော်လည်းကောင်း (ရမ်ဖန်လတွင်ရိဗာမထားဘဲ) အခြား ရက်များတွင်ပျက်ခဲ့သည့် နေ့ရက်များကို ပြန်လည်ထားပိုင်ခွင့်ရှိသည်။ (၂း၁၈၃-၁၈၄) အထက်ပါအာယသ်တော်တွင် ကျမ်းတော်မြတ်ကုရ်အာန်၏ ငြင်းမရနိုင်လောက်သည့် ဒအ်ဝသ်ဆိုင်ရာ ၊ စိတ္တဗေဒဆိုင်ရာ ဉာဏ်အမြော် အမြင်ပေါ် အခြေခံသည့် တန်ဖိုးများပါရှိသည်။ ထိုအချက်များမှာ ----

(၁) လူတို့အား တယုတယ အီမာန်ရှင်များဟုခေါ်ဆိုခြင်း၊ ဤခေါ်ဆို သံသည် မုအ်မင်န်တိုင်းကို အရှင်မြတ်ဘက်မှလာသော ဥပဒေများ၊ ဆုံးဖြတ်ချက်များနှင့်အမိန့်တော်များကို ပျော်ရွှင်စွာလိုက်နာရန် အဆင်သင့် ဖြစ်စေသည်။

(၂) အခြားသောအွမ္မသ်များအပေါ်ပြဌာန်းမှုကို ဖော်ပြခြင်း - ဤသို့ဖြင့် ရိုဇာစောင့်ထိန်းသူတိုင်း၏ နှလုံးသားထဲတွင် ဤအမိန့်တော်ကို လိုက်နာနိုင်မည့် သတ္တိအလိုအလျောက်ဝင်ရောက်သွားပေမည်။

သမိုင်းပညာရှင်အေမာမ်အိပ်နေ့ကဆီး၊ အိပ်နေ့ဟာဂျရ်နှင့် မော်လာနာ အဗွလ်ဟာစံအလီ သခင်ကြီးတို့၏ အဆိုအရ ဟာဇရသ်အာဒမ် လက်ထက်မှ ကျွန်ုပ်တို့ အွမ္မသ်အထိ အားလုံးအပေါ်တွင် ပုံစံမတူသော်လည်း ရိုဇာစောင့်ထိန်းခြင်းအမိန့်မှာမူရှိခဲ့သည်။

(၃) ရက်အနည်းငယ်သာ စောင်ထိန်းရမည်ဖြစ်ခြင်း - ဤတွင် စောင့်ထိန်းသူများသည် ဝန်ထုတ်ဝန်ပိုးဟု မမှတ်ယူဘဲ ပျော်ရွှင်စွာ စောင့်နိုင်မည်ဖြစ်သည်။

(၄) နာမကျန်းသူများနှင့် ခရီးသည်အတွက် လျှော့ပေးထားခြင်း - ဤသို့ဖြင့် နိုင်သည့်ဝန်ကိုသာ တရားတော်မြတ်က ထမ်းစေခြင်းကို ပိုမိုသိမြင်သွားနိုင်မည်။

(အလ်အရ်ကားနူလ် အရ်ဗအဟ် စာ - ၁၆၉)

## ရိုစာစောင့်ထိန်းခြင်းတွင် တိမ်မြုပ်နေသော အကျိုးတရားများ

ရိုစာစောင့်ထိန်းခြင်းတွင် အကျိုးတရားများစွာ တိမ်မြုပ်နေပါသည်။ ယင်းတို့မှာ-

(၁) သက္ကဝါ- ကျင့်ရန်ကြဉ်ရန်များကို စနစ်တကျဆောင်ရွက်နိုင်ခြင်း

(၂) ကျေးဇူးတင်တတ်ခြင်း - ဝတ်မွတ်ခြင်းဒဏ်ကို ခဏတာ ခံစားလိုက်ရသော လူသားသည် အမြဲကျွေးမွေးနေသော ဖန်ဆင်းရှင်၏ ကျေးဇူးကို ပိုမိုသိတတ် လာမည်။

(၃) သီးခံတတ်လာခြင်း - အရှင့်အမိန့်ကို နာခံရာတွင် သီးခံတတ်လာမည်။

(၄) စာနာထောက်ထားခြင်း - ကိုယ်တိုင် ဝေဒနာ ခံစားဖူးသဖြင့် အခြား သူဆင်းရဲများ၏ ဝေဒနာခံစားရခြင်းကို နားလည်သဘောပေါက်လာပြီး ကိုယ်ချင်းစာ တရားများပေါ်ပေါက်လာမည်။

(၅) ကျန်းမာရေးကောင်းမွန်လာခြင်း - ခဏတာ အစာရေစာ ဖြတ်ထားခြင်းဖြင့် ခန္ဓာကိုယ်လည်းပတ်မှုစနစ် ကောင်းမွန်လာပြီး ကျန်းမာရေးသည်လည်း ပိုမို ကောင်းမွန်လာမည်ဖြစ်သည်။

(ဟာကီမွလ်အွမ္မဟ် ၏ အဟ်ကားမိအစ္စလာမ် မှ ကောက်နုတ်တင်ပြသည်။)

## ရမဇန်လမြတ်၏ ရိုဇာစောင့်ထိန်းရန် တာဝန်ရှိသူများ

အသိဉာဏ်ရှိသော အရွယ်ရောက်အမျိုးသား၊ အမျိုးသမီးတိုင်းအပေါ်တွင် ရိုဇာစောင့်ထိန်းရန် တာဝန်ရှိသည်။ တာဝန်ရှိပါလျှက် ရိုဇာစောင့်ထိန်း ခြင်းကို အကြောင်းမဲ့ စွန့်လွှတ်သူသည် ကြီးလေးသော အကုသိုလ် ကျူးလွန်သူ ဖြစ်သည်။ အရွယ် မရောက်သေးသော ကလေးငယ်များ အပေါ်တွင် ရိုဇာစောင့်ထိန်းရန် တာဝန်မရှိသေးသော်လည်း အလေ့အကျင့် ရစေရန် ကျန်းမာရေးကို ထောက်ထားပြီး ရိုဇာစောင့်ထိန်းစေသင့်သည်။

## ရမ်ဇန်လမြတ်တွင် ရိုဇာမစောင့်ထိန်းဘဲ နေခွင့်ရှိသူများ

၁။ (၄၈) မိုင်(သို့) ထိုထက်ဝေးလံသော ခရီးသွားနေချိန် ရိုဇာစောင့်ထိန်းရန် အခက်အခဲရှိသူ (ခရီးတွင် အခက်အခဲ မရှိပါက ရိုဇာစောင့်ထိန်းခြင်းမှာ ပိုမိုကောင်းမွန်ပါသည်။)

၂။ ရိုဇာမစောင့်ထိန်းနိုင်လောက်အောင် ပြင်းထန်သောရောဂါစွဲကပ်နေသူ၊ ထိုမျှမဆိုးရွားပေမဲ့လည်း ရိုဇာစောင့်ထိန်းလိုက်ပါက ရောဂါအခြေအနေပို၍

စိုးရိမ်ရမည်ကို ကျွမ်းကျင်သမာဓိရှိသော ဒေါက်တာတစ်ဦးက ပြောဆိုခြင်းခံရသူ။

၃။ ဓမ္မတာရာသီသွေးဆင်းနေသော အမျိုးသမီးနှင့် မီးတွင်းနေ အမျိုးသမီးများ။

၄။ ရိုဇာထားခြင်းဖြင့် မိမိအတွက်နှင့် သန္ဓေသားအား ထိခိုက်မည်ကို အမှန်တကယ် စိုးရိမ်ရသော ကိုယ်ဝန်ဆောင် အမျိုးသမီး။

၅။ ရိုဇာစောင့်ထိန်းခြင်းဖြင့် မိမိအတွက်ဖြစ်စေ၊ ကလေး၌ဖြစ်စေ ဘေးအန္တရာယ်ကို စိုးရိမ်ရသော နို့တိုက်မိခင်။

၆။ ရိုဇာမစောင့်ထိန်းနိုင်လောက်အောင် အိုမင်းမစွမ်းဖြစ်နေသူ။

ဤနောက်ဆုံးအမျိုးအစားမှ ပုဂ္ဂိုလ်သည် ကျန်သက်တမ်းတွင်လည်း လုံးဝ ရိုဇာမထားနိုင်တော့ဟု ယုံကြည်ရလျှင် ထိုသူသည် မစောင့်ထိန်းနိုင်သော ရိုဇာအတွက် ဖိဒ်ယဟ်ပေးပိုင်သည်။

မှတ်ချက်။ ။ ရိုဇာမထားပိုင်သည့်အကြောင်းတစ်ခုခုမရှိတော့လျှင် ထိုသူ့အပေါ်ရိုဇာထားရန်တာဝန်ရှိသွားပေမည်။ ဥပမာ - ခရီးသည် အိမ်သို့ ပြန်လည်ရောက်ရှိလာခြင်း။

**ရိုဇာ၏ ဖိဒ်ယဟ်**

ရိုဇာတစ်ရက်အစား ဂျုံစေ့ ၁ ပိသာ ၁၀သား၊ မုယောဆန်ဖြစ်လျှင် ၂ ပိသာ ၂၀ သားပေးရမည်။ သို့မဟုတ် ယင်းနှစ်မျိုးအနက် တစ်မျိုးမျိုး၏ ကာလတန်ဖိုးကို ပေးရမည်။

## ရှိဇာထားရာတွင် နီယသ်

နီယသ်ဆိုသည်မှာ စိတ်၏ရည်စူးချက်ကို ခေါ်ဆိုသည်။ နှုတ်မှပြောဆိုသည် ဖြစ်စေ/မပြောသည်ဖြစ်စေ။ ရှိဇာတွင် နီယသ်ကိုစိတ်မှ ရည်စူးခြင်းသည် အရေးကြီးသည်။ ဤသို့ရှိဇာထားရန်ရည်ရွယ်ချက်မထားခဲ့ဘဲ တနေကုန် မစားမသောက်ဘဲ နေလျှင် ရှိဇာအထမြောက်မည်မဟုတ်ပေ။ ရမ်ဇန်ရှိဇာ၏ နီယသ်ကို ညတွင်ပြုလုပ်လိုက်ခြင်းမှာသာပိုကောင်းမွန်သည်။ ညတွင်မပြု လုပ်မိပါက နေမွန်းမလွဲမီ တစ်နာရီခွဲခန့်အထိ နီယသ်ပြုပိုင်သည်။

## ရှိဇာပျက်စေသောအချက်များ

ရှိဇဟ် ပျက်စေသောအချက်များမှာ နှစ်မျိုးရှိပါသည်။ တစ်မျိုးမှာ ရှိဇဟ်ပျက်၍ ထိုတစ်ရက်အစား ကဇ္ဇာ (၁) ရက်ပြန်ဖြည့်ရသည်။ ဒုတိယ တစ်မျိုးမှာ ရှိဇာပျက်၍ ကဇ္ဇာဖြည့်ရမည့်အပြင် ကဖ္ဖာရာလည်းထိုက်မည်။

## ရှိဇာပျက်၍ ကဇ္ဇာသာ ပြန်ဖြည့်ရမည့်အချက်များ

(၁) ရှိဇာစောင့်ထိန်းသူ၏ ပါးစပ်အတွင်းသို့ အခြားသူတစ်ဦးဦးက စားစရာ တစ်ခုခုအတင်းထိုးထည့်၍ လည်ချောင်းအတွင်းဝင်သွားခြင်း

(၂) ရှိဇာစောင့်ထိန်းထားကြောင်းသတိရှိလျက်နှင့် ပလုပ်ကျင်းနေစဉ် လည်ချောင်းအတွင်း ရေဝင်သွားခြင်း

(၃) အန်ထွက်လာသော အန်ဖတ်များကို ပြန်လည်မျိုချခြင်း

(၄) လက်ထိုး၍ ပါးစပ်အပြည့်အန်ချခြင်း

(၅) ကျောက်ခဲ ၊မြေကြီး၊ အုတ်ခဲစ ၊ သစ်စေ့၊ စက္ကူစ စသည့် လူသားများ စားလေ့မရှိသောအရာများကို မျိုချခြင်း

(၆) သွားကြားညှပ်နေသော ကုလားပဲစေ့ခန့်မျှ (သို့) ထိုထက်ကြီးသော အစားအစာတစ်ခုကို လျှာဖြင့် ကလော်၍ မျိုချခြင်း

(၇) သွားမှထွက်သော သွေးကို မျိုချခြင်း (တံတွေးနှင့်ရောသော်လည်း သွေးပမာဏကများနေလျှင် ရိုဇာပျက်၏။)

(၈) မေ့လျော့၍ စားသောက်မိပြီး ရိုဇာပျက်ပြီဟု ထင်၍ ထပ်မံစားသောက်ခြင်း

(၉) စဟ်ရီချိန်ကုန်ပြီးသောအခါ မကုန်သေးပါဟု ထင်မှတ်၍ စားသောက်မိခြင်း

(၁၀) ရမ်ဇန်လမြတ်မှ အပ အခြားရက်တွင်ထားသော နဖိလ်ရိုဇာကို ဖျက်ပစ်ခြင်း

(၁၁) နေမဝင်သေးမီ မိုးသားများကြောင့် နေဝင်ပြီဟု ထင်မှတ်ကာ ဝါဖြေမိခြင်း

(၁၂) အမျိုးသမီးကို ယာဂစိတ်ဖြင့် ကိုင်တွယ်မိပြီး သုတ်ရည်ထွက်သွားခြင်း

(၁၃) လော်ဘန် ၊မီးခိုး၊ ဆေးလိပ်ငွေ့တို့ကို တမင်ရှူရှိုက်ခြင်း

မှတ်ချက်။ ။ အထက်ပါအချက်များကို ကျူးလွန်မိသူသည် ရိုဇာပျက်သွားသော်လည်း ကျန်ရှိသည့်အချိန်ကာလကို ရိုဇာထားသူများပမာ မစားမသောက်ဘဲ နေလိုက်ခြင်းမှာ ပိုမိုကောင်းမွန်သည်။ စားသောက်မည်ဆိုလျှင်လည်း အများမမြင်နိုင်သည့် နေရာတွင် စားသောက်သင့်သည်။

**<u>ရိုဇာ ကဖ္ဖာထားခြင်းနှင့်အတူ ကဖ္ဖာရဟ်ပါ ထိုက်စေသောအချက်များ</u>**

(၁) ရမ်ဇန်လမြတ်တွင် ရိုဇာစောင့်ထိန်းထားစဉ် အာဟာရအဖြစ် ၊ ဆေးအဖြစ် ၊ အရသာခံရန် သုံးစွဲလေ့ရှိသော အစာကို တမင်သိလျက် စားသုံးခြင်း (၂) ကိုယ်လက်နှီးနှောခြင်း (၃) သွေးထုတ်ပြီး (သို့) စူရ်မဟ်စွဲပြီး ရိုဇာပျက်ပြီဟု ထင်၍ တမင်စားသောက်လိုက်ခြင်း

## ရိုဇာ၏ ကဗ္ဗာရဟ်

ရိုဇာဖျက်လိုက်ခြင်းကြောင့် ထိုက်လာသော ကဗ္ဗာရဟ်မှာ နှစ်လဆက်တိုက် ရိုဇာစောင့်ထိန်းရမည်။ ထိုသို့နှစ်လဆက်တိုက် ရိုဇာမစောင့်ထိန်း နိုင်လျှင် ဆင်းရဲသား (၆၀) ကို ထမင်းနှစ်နပ် အဝကျွေးရမည်။

## ကဇ္ဇာ ရိုဇဟ်

မိမိလွှတ်ခဲ့သော ရိုဇာများကို စောနိုင်သမျှစော၍ ကဇ္ဇာ ပြုလုပ်ခြင်းမှာ အကောင်းဆုံးဖြစ်သည်။ အကြောင်းမဲ့ နောက်ဆိုင်းထားခြင်းမှာမကောင်းပါ။ တစ်ဆက်တည်းသော် လည်းကောင်း၊ ရက်ခြား၍သော်လည်းကောင်း ကဇ္ဇာရိုဇာစောင့်ထိန်းခြင်း ပိုင်သည်။

## ရိုဇာတွင် မက္ကရူးဟ် ဖြစ်စေသောအချက်များ

(၁) လူသားများ စားလေ့စားထမရှိသောအရာ တစ်စုံတစ်ရာကို ဝါးခြင်း/ငုံထားခြင်း

(၂) အစားအစာ တစ်စုံတစ်ရာကို မြည်းခြင်း (ခင်ပွန်းကို ကြောက်ရသော အမျိုးသမီး အနေဖြင့် ပြုခွင့်ရှိ၏။ သို့သော် ချက်ခြင်းထွေးလိုက်ရမည်။)

(၃) ပလုတ်ကျင်းရာတွင် လည်းကောင်း၊ နှာခေါင်းဆေးရာတွင် လည်းကောင်း ရေများစွာထည့်ခြင်း

(၄) တံတွေးများကို ငုံထားပြီး မျိုချခြင်း

(၅) အတင်းပြောခြင်း၊ မုသားပြောခြင်း၊ ဆဲရေးတိုင်းထွာခြင်း

(၆) ရေချိုးရန်တာဝန်ထိုက်လျှက် ရေမချိုးဘဲ ကြာမြင့်စွာနေခြင်း

(၇) မီးသွေးခဲ၊ သွားတိုက်ဆေးဖြင့် သွားတိုက်ခြင်း

(၈) သွေးလှုျခြင်း၊သွေးထုတ်ခြင်း စသည်တို့ဖြစ်သည်။

**ဤအချက်များဖြင့် မတ္တရှုးဟ်သာဖြစ်၍ ရိုဇာပျက်မည်မဟုတ်ပေ။**

**ရိုဇာတွင် မတ္တရှုးဟ်မဖြစ်စေသောအချက်များ**

(၁) မိစ်ဝါးက်(တံပူ) တိုက်ခြင်း

(၂) ဦးခေါင်းနှင့် မုတ်ဆိတ်များကို ဆီလိမ်းခြင်း

(၃) မျက်စေ့ထဲတွင်ဆေးရည်ထည့်ခြင်း/ စွဲရ်မဟ်တားခြင်း

(၄) အမွှေးနံ့သာ ရှုရှိုက်ခြင်း

(၅) နေပူ၍ ဖြစ်စေ ရေဆာ၍ဖြစ်စေ ရေချိုးခြင်း

(၆) ဆေးထိုးခြင်း

(၇) မေ့လျော့ပြီး စားသောက်မိခြင်း

(၈) လည်ချောင်းတွင်း အလိုအလျောက် မီးခိုး၊ ဖုံမှုန့်နှင့် ယင်ကောင် စသည်တို့ ဝင်ရောက်သွားခြင်း

(၉) နားတွင်း ရေထည့်ခြင်း (သို့) အလိုအလျောက်ဝင်ရောက်သွားခြင်း

(၁၀) အလိုအလျောက်အန်ခြင်း

(၁၁) အိပ်ပျော်နေစဉ် အိဟ်သိလားမ် (သုတ်ရည်ထွက်သွားခြင်း)

(၁၂) သွားများမှ သွေးယိုထွက်လာပြီး လည်ချောင်းအတွင်းသို့ မဝင် ရောက်ခြင်း

(၁၃) အရေးပေါ်လိုအပ်လာပါက ဆေးမှုန့်များမပါသော ရိုးရိုးအောက်စီဂျင် ပေးခြင်း

(၁၄) မဖြစ်မနေလိုအပ်လာပါက အသားဆေး၊အကြောဆေးထိုးခြင်း၊ ဂလူးကိုစ်ချိတ်ခြင်း

(ဂျဝါဟိရှုလ်ဖိက်ဟ်၊ဂျဒီးဒ်ဖိက်ဟီးမစာအိလ် - ရိုဇာအခန်း)

## စဟ်ရီ (မင်္ဂလာ ဝါထမင်း ) စားသုံးခြင်း

ရိုဇာထားသူအဖို့ ညဥ့်၏နောက်ဆုံးယံ မိုးသောက်လင်းချိန်မတိုင်မီ စဟ်ရီ ဝါထမင်းစားသုံးခြင်းမှာ စွန္နသ်ဖြစ်သည်။ ထို့အတူ ဗရ်ကသ်နှင့် အကျိုးဆဝါးဗ်များလည်းရရှိမည်ဖြစ်သည်။

ညဥ့်တစ်ဝက်နောက်ပိုင်းမည်သည့်အချိန်၌ပင်မဆို စဟ်ရီစားပါက စွန္နသ် အထမြောက်သွားမည်။ သို့သော် ညဥ့်နောက်ဆုံးယံတွင် စားခြင်းမှာ ပိုမို မွန်မြတ်သည်။

အကယ်၍ မှအဇ္ဇင်န်သည် စဟ်ရီအချိန်မကုန်ဆုံးမီ အဇာန် ပေးလိုက်ပါမူ ဝါပိတ်အချိန်အထိ ဆက်လက်စားသုံးနိုင်သည်။ စဟ်ရီ စားသုံးပြီး သောအခါ နှလုံးသားမှ နိယသ်ပြုလိုက်လျှင်လည်း ရိုဇာ အထမြောက်သွားပေမည်။ နှုတ်မှ ပိုမိုသေချာစေရန် နီယသ်လုပ်မည် ဆိုလျှင်လည်း ပြုပိုင်သည်။

## အိဖ်သာရီ (ဝါဖြေခြင်း)

နေဝင်သွားသည်ဟု ယုံကြည်ရလျှင်ဝါဖြေရမည်။ အချိန် ကျရောက်နေပါလျှက် နောက်ဆိုင်းခြင်းမှာ မက္ကရူးဟ်ဖြစ်သည်။ ရေ၊ စွံပလွန်သီး တို့ဖြင့် ဝါဖြေခြင်းမှာ ကောင်းမွန်ပါသည်။ ဝါမဖြေမီ

اللهم لك صمت وبك امنت وعلي رزقك افطرت

အိုအရှင်မြတ် - အရှင်မြတ်အတွက် ကျွန်တော်မျိုး ရိုဇာထားပါ၏။ အရှင်မြတ်အပေါ် အီမာန်ယူပါ၏။ အရှင်မြတ်ချီးမြှင့်တော်မူသော ရိဇ်ကျွာဖြင့် ကျွန်တော်မျိုး ဝါဖြေပါ၏။

ဝါဖြေပြီးသောအခါ အောက်ပါဒိုအာကို ဖတ်ရွတ်ရမည်။

ذهب الظما وابتلت العروق وثبت الاجر ان شاء الله

ရေငတ်ခြင်း ပပျောက်သွားခဲ့ပြီ၊ အကြောများသည်လည်း စိုပြေလန်းဆန်း သွားခဲ့ပြီ၊ အကျိုးဆဝါးဗ်သည်လည်း အရှင်မြတ်အလိုတော်ဖြင့် အတည် ဖြစ်ခဲ့ချေပြီ။

## သရာဝီးဟ် နမားဇ်

သရာဝီးဟ်သည် အရဗီစကားလုံးဖြစ်သည်။ သရ်ဝီယဟ်၏ ဗဟုဝုစ်ကိန်း ဖြစ်သည်။ သက်တောင့်သက်သာမှု ရယူခြင်းဟုအဓိပ္ပါယ်ရသည်။ (၄) ရကအသ် ဝတ်ပြုပြီးလျှင် ခေတ္တနားခြင်းကို သရ်ဝီယဟ်ခေါ်သည်။ ရကအသ် ပေါင်း (၂၀) တွင် (၅) ကြိမ်နားရသဖြင့် ဤနမားဇ်ကို ဗဟုဝုစ်ကိန်းသုံးပြီး သရာဝီးဟ်ဟုခေါ်ဆိုခြင်းဖြစ်သည်။

ရမ်ဇန်လမြတ်တွင် အေရှာဖရ်ဇ်(၄)ရကအသ်နှင့် စွန္နသ်(၂)ရကအသ် အပြီး သရာဝီးဟ် နမားဇ် ရကအသ် (၂၀) ဝတ်ပြုခြင်းသည် စွန္နသ်မုအက္ကဒဟ် တာဝန်ဖြစ်သည်။ သရာဝီးဟ်နမားဇ်တွင် ကျမ်းတော်မြတ်ကုရ်အာန် တစ်ခုသမ်လုံးဖတ်ရွတ်ခြင်းသည်လည်း ဒုတိယစွန္နသ် ဖြစ်သည်။

သရာဝီးဟ်၏ အချို့ရကအသ်များလွတ်သွားသူသည် အေမာမ်နှင့် အတူ ဝိသ်ရ်နမားဇ်ပြီးချိန်တွင် ပြန်လည်ဖြည့်စွက်ရမည်။

သရာဝီးဟ်တွင် ကျမ်းတော်မြတ်ကုရ်အာန်ကို သဂျ်ဝီးဒ် ဥပဒေများ မပါဘဲ လျှင်မြန်စွာဖတ်ရွတ်ခြင်းသည် ဂိုနာထိုက်ပေသည်။ ဖတ်ရွတ်သူနှင့် နားထောင်သူနှစ်ဦးလုံးသည် ဆဝါးဗ်ရကြမည်မဟုတ်ပေ။ အမျိုးသား များသည် ဝိသ်ရ်နမားဇ်ကို ဂျမာအသ်ဖြင့် ဝတ်ပြုရမည်။

## အိအ်သေ့ကားဖ်

အိအ်သေ့ကားဖ်ဆိုသည်မှာ အရပ်စာပေတွင် တနေရာတွင် စိတ်ရောကိုယ်ပါ ဇောက်ချနေထိုင်လိုက်ခြင်းဟူ၍ ဖြစ်သည်။ ရှရီအသ် တရားတော်မြတ်တွင် နီယသ်ပြု၍ ဗလီတွင်နေထိုင် လိုက်ခြင်း၊ ဗလီထဲတွင် ဖြည့်ဆည်း၍မရနိုင်သော (ကျင်ကြီး၊ကျင်ငယ်စွန့်ခြင်း၊ဝိုဇူလုပ်ခြင်းနှင့် ကိုယ်မသန့်သောကြောင့်ရေချိုးခြင်း) စသည်တို့ကဲ့သို့ အရေးကြီးသော လိုအပ်ချက်များ ဆောင်ရွက်ခြင်းမှအပ ဗလီအပြင်သို့မထွက်ဘဲ နေထိုင်ခြင်းကို ခေါ်ဆိုသည်။

အိအ်သေ့ကားဖ်နှင့်စပ်လျဉ်း၍ စူရဟ်ဗကရဟ် အာယသ် (၁၈၇) တွင်လည်း လာရှိထားပေသည်။ ဗိုခါရီနှင့် မွတ်စ်လင်မ်ကျမ်းတွင် ဟဇရသ် အာအေရှာ သခင်မကြီးထံမှ ဆင့်ပြန်ချက်တစ်ခုလာရှိသည်။ ကိုယ်တော်မြတ်ကြီး (ဆွလ္လလ္လာဟိုအလိုင်းဟေ့ဝစလ္လမ်) သည် ကွယ်လွန်ချိန်အထိ ရမ်ဇန် လမြတ်၏ နောက်ဆုံး(၁၀) ရက်တွင် အိအ်သေ့ကားဖ်ထိုင်လေ့ ရှိခဲ့သည်။

## အိအ်သေ့ကားဖ် ၏ အနှစ်သာရ/ရည်ရွယ်ချက်

ဟဇရသ်မော်လာနာ အဗ္ဗုလ်ဟစံအလီ နဒ်ဝီ သခင်ရေးသား သည်မှာ - အိအ်သေ့ကားဖ်သည် ရမ်ဇန်၏ အကျိုးတရားများကို ပြည့်ပြည့်ဝဝ ရယူနိုင်ရန်ဖြစ်သည်။ ရိုဇာထားသူတစ်ဦးသည် ရမ်ဇန်လမြတ်၏ အစပိုင်းတွင် စိတ်တည်ငြိမ်မှု၊ ဝိညာဉ်ပိုင်းဆိုင်ရာ နွေးထွေးမှု၊ အတွေးအခေါ်များ၏စုစည်းမှု၊ ကိုယ်နှုတ်နှလုံး (၃) ပါးလုံးသည် အရှင်မြတ်ဘက်သို့ အပြည့်အဝ မလှည့်နိုင်ခဲ့ပါမူ နောက်ဆုံး (၁၀) ရက်တွင်

အိအ်သေ့ကားဖ်ထိုင်ကာ လစ်ဟာခဲ့သော ကွက်လပ်များကို ပြန်လည်ဖြည့်စွက်နိုင်ပါသည်။

အလ္လာမဟ်အိဗ်နေ့ကိုင်ယစ်မ် သခင်အမိန့်ရှိသည် - အိအ်သေ့ကားဖ်၏ အဓိကရည်ရွယ်ချက်မှာ (၁) နလုံးသားသည် အလ္လာဟ်နှင့် ဆက်သွယ်မှု ရရှိရန် (၂) နာမ်ပိုင်းဆိုင်ရာတည်ငြိမ်မှုရရှိရန် (၃) လူတို့နှင့် ခနတာ သံယောဇဉ် နှောင်ကြိုးများဖြတ်တောက်ထားရန် (၄) စိတ်အတွေးထဲတွင် အမြဲအရှင်မြတ်ကို ကြောက်ရွံ့စိတ်၊ အမြဲ သတိရလိုစိတ်များ ပေါ်ပေါက်ရန် (၅) အရှင်မြတ် နှင့် နီးကပ်မှုရရှိရန် (၆) ကဗ်ရ်ထဲတွင် တစ်ဦးတည်းနေထိုင်ခြင်း၏ အတွေးများ ဝင်ရောက်လာရန် စသည်တို့ဖြစ်သည်။

## ဗလီတွင်အိအ်သေ့ကားဖ်ထိုင်ရခြင်း

အမျိုးသားများအဖို့ ဗလီတွင် အိအ်သေ့ကားဖ် ထိုင်ခြင်းဖြင့် စိတ်တည် ငြိမ်မှုပိုမိုရရှိနိုင်သည်၊ နလုံးသားကို သန့်ပြန့်စွာ ထားနိုင်မည်၊ ကောင်းကင်တမန်များနှင့် တူဆင်သွားပြီး၊ လပေါင်းတစ်ထောင်ထက်သာ မြတ်သော ကဒရ်ညဥ့်မြတ်၏ အနစ်သာရများကို ရရှိနိုင်မည်ဖြစ်သည် ဟု ဟာဇရသ် ရှားဟ် ဝလီယွလ္လာသခင်ကြီးအမိန့်ရှိခဲ့သည်။

## အိအ်သေ့ကားဖ်ဆိုင်ရာ အရေးပါသော အမိန့်ပညတ်ချက်အချို့

ရမ်ဇန်လမြတ်၏ နောက်ဆုံး (၁၀) ရက်တွင် ဗလီတစ်လုံး၌ တစ်ဦး ထိုင်ရန်မှာ စွန္နသ်ဖြစ်သည်။ တစ်ဦးထိုင်လိုက်ပါက ဂျမာအသ်သားဝင် အားလုံးဘက်မှ တာဝန်ကျသွားမည်ဖြစ်သည်။ တစ်ဦးတစ်ယောက်မှ

မထိုင်ပါက စွန္နသ်ကို စွန့်လွှတ်ခြင်း၏ အမင်္ဂလာအားလုံးပေါ်သို့ ကျရောက်မည်ဖြစ်သည်။

အိအ်သေ့ကားဖ်ထိုင်နေစဉ် လုံး၀ တိတ်ဆိတ်စွာ မနေသင့်ပါ။ သို့သာမက ကောင်းသောလုပ်ရပ်များဖြစ်သော (ဇိုက်ရ်၊ သေလာ၀သ်၊ နမားဇ်၊ သာသာနာ့ စာအုပ်စာပေလေ့လာခြင်းစသည်) တို့တွင် နစ်မွန်းနေရမည်။

အိအ်သေ့ကားဖ်ထိုင်နေစဉ် မည်သည့် အမလ်လုပ်ရမည်ဟူသော သတ်မှတ်ချက်မရှိပါ။ မိမိကြိုက်နှစ်သက်ရာ ကောင်းမှုကို ပြုလုပ်နိုင်သည်။

လိုအပ်ချက်မရှိဘဲ အကြောင်းမဲ့ဗလီအပြင်သို့ မေ့လျော့၍ဖြစ်စေ၊ တမင်သက်သက်ဖြစ်စေ ထွက်မိပါက အိအ်သေ့ကားဖ်ပျက်သွားပေမည်။ နောက်လာမည့်နှစ်တွင် ပြန်လည် ကဇ္ဇာဖြည့်ရမည်။

အကယ်၍ နောက်ဆုံး(၁၀) ရက်တွင် အိအ်သေ့ကားဖ်ထိုင်မည်ဆိုပါက ရမ်ဇန်(၂၀) ရက်နေ့ နေမ၀င်မီ ဗလီထဲသို့၀င်ရောက်ရမည်။ အီးဒ် လ မြင်ပြီဟု ယုံကြည်ရမှသာ အပြင်သို့ထွက်ရမည်။

အမျိုးသမီးများသည် မိမိတို့၏ အိမ်အတွင်း လုံခြုံပြီးအများမမြင်နိုင်သည့်နေရာတွင် အိအ်သေ့ကားဖ်ထိုင်ရမည်။ ဖုန်းနှင့်အခြားဆက်စပ်ပစ္စည်းများသည် အရှင်မြတ်နှင့်ဆက်သွယ်ခြင်းကို အနှောက်အယှက် ဖြစ်စေသည့်အတွက် မယူဆောင်သွားလျှင် ပိုမိုအကျိုးရှိမည်။

## ရမ်ဇန်လမြတ်နှင့် လိုင်လသွလ်ကဒ်ရ်ညဥ့်မြတ်

ရမ်ဇန်လ မွန်မြတ်ရခြင်းမှာ လိုင်လသွလ်ကဒ်ရ် လပေါင်းတစ်ထောင် ထက်သာမြတ်သော ညဥ့်ကြောင့်လည်းဖြစ်သည်။

ကဒ်ရဲ ဆိုသည်မှာ အရဗီစာပေတွင် မှန်းဆ ရာထားခြင်း၊ စီမံခန့်ခွဲခြင်း၊ စွမ်းဆောင်နိုင်ခြင်း၊မြင့်မြတ်ခြင်း၊လေးစားအပ်ခြင်း ဟူ၍ဖြစ်သည်။ စူရဟ်ဒုခါးန် အာယသ်တော်(၁)မှ (၄) ထိလာရှိချက်များအရ ဤညဥ့်တွင် ကျမ်းတော်မြတ်ကုရ်အာန်ကျရောက်ခြင်း၊ ကမ္ဘာ့ခပ်သိမ်းနှင့်စပ်လျဉ်းသည့် စီမံခန့်ခွဲမှုများ ပြုလုပ်ခြင်း၊ ကျမ်းတော်မြတ်ကုရ်အာန်တွင် စူရဟ်ကဒ်ရ် အမည်ဖြင့် စူရဟ်တစ်ပုဒ်ချပေးခြင်း စသည်တို့ကြောင့် ဤညဥ့်သည် ထွဋ်မြတ်လှပေသည်။

## ကဒ်ရ်ညဥ့်မြတ်၏ နောက်ခံသမိုင်း

ကဒ်ရ်ညဥ့်မြတ်ဖြစ်ရှိရခြင်းနှင့် စပ်လျဉ်း၍ အေမာမ်အိဗ်နေ့ကဆီးရ် ဆင့်ပြန်သည်မှာ - တစ်နေ့ ကိုယ်တော်မြတ်ကြီး (ဆွလ္လလ္လာဟုအလိုင်းဟေ့ဝစလ္လမ်) သည် ဗနီအိစ်ရာအီးလ်လူမျိုးတို့အနက် ပုဂ္ဂိုလ် (၄) ဦးတို့သည် နှစ်ပေါင်း (၈၀) တိုင်တိုင် တစ်စက္ကန့်မျှ အရှင်မြတ်၏ အမိန့်မဖီဆန်ဘဲ အရှင်မြတ်ကို ခဝပ်ကိုးကွယ်ကြောင်း မိန့်ကြားလေရာ ဆွဟာဗာအပေါင်း တို့သည် အလွန်မှပင် အံ့သြ နှစ်သက်ကြပေသည်။ ထိုအခါ ဟဇရသ် ဂျိဗ်ရအီးလ် (အလိုင်ဟိစ္စလာမ်) သည် ကိုယ်တော်မြတ်ကြီး ထံ ကြွမြန်းလာပြီး အသင့်အဆွ်ဟာဗ်တော်များသည် အထက်ပါပုဂ္ဂိုလ်တို့အပေါ် အားကျနေကြ ပေသည်။ မြင့်မြတ်တော်မူသော အရှင်မြတ်သည် ထိုထက်သာ ပိုကောင်း မွန်သော အရာ အသင်တို့ကို ချီးမြှင့်လိုက်ပြီဟု ဆိုကာ စူရဟ် ကဒရ်ကို ဖတ်ရွတ်ပြတော်မူပြီးနောက် ဤသည်အသင်နှင့် အသင့်အွမ္မသ် နောက်လိုက်များ အံ့သြနေသည့် အရာထက်ပင် သာပိုမြင့်မြတ်သည်ဟု မိန့်ကြားခဲ့ရာ ကိုယ်တော်မြတ်ကြီး

နှင့် ဆွဟာဗာအပေါင်းတို့သည် အလွန်ပင် ပျော်ရွှင်သွားခဲ့ပေသည်။ ထိုစူရဟ်တွင် ကဒ်ရ်ညဥ့်သည် လပေါင်းတစ်ထောင် ထက်သာ ပိုမြင့်မြတ်ကြောင်း မိန့်ထားသည်။ လပေါင်းတစ်ထောင်သည် (၈၃) နှစ် (၄) လနှင့်ညီမျှသည်။

ကျွန်ုပ်တို့အွမ္မသ်သားများ၏ အသက်မှာ အခြားအွမ္မသ်သားများ၏ အသက်နှင့်ယှဉ်လျှင်အလွန်ပင်တိုတောင်းလှသည်။ ထို့ကြောင့်အရှင်မြတ်သည် မိမိအသနားတော်ဖြင့် ညဥ့်တစ်ညဥ့်ကို ချီးမြင့်တော်မူခဲ့သည်။ ထိုညဥ့်၌ အေဗာဒသ် ပြုခြင်းသည် လပေါင်း တစ်ထောင်ထက်သာ မြတ်သွားပေသည်။

## ဖုံးကွယ်လျှက်ရှိသော ကဒ်ရ်ညဥ့်

သို့သော်မြင့်မြတ်တော်မူသော အရှင်မြတ်သည် လူသားတို့ ပိုမိုတရားအားထုတ်နိုင်ရန် ကဒ်ရ်ညဥ့်မြတ်ကို ဖုံးကွယ်ထားပေသည်။ အတိအကျ မည်သူမျှ မပြောဆိုနိုင်ပေ။ သဖ်စီးရ်ခါဇင်န်လာ ဆင့်ပြန်ချက်များအရ - ဟာဇရသ်အိဗ်နေ့အဗ္ဗားစ်သခင်၊ ဟာဇရသ်အိုဗိုင်ယ်ဗင်န်ကအဗ် နှင့်အေမာမ်အဗူဟနီဖာ သခင်ကြီးတို့သည် ကိုယ်စီအထောက်အထားများ ပေးပြီး (၂၇) ရက်ညဥ့်ဟု မိန့်ဆိုထားသော်လည်း ဟာဇရသ်ရှားဟ် ဝလီ ယွလ္လာဟ်သခင်ကြီးနှင့် အခြားသော ပညာရှင်ကြီးများကမူ ကဒ်ရ်ညဥ့်မြတ် သည် ရမ်ဇန်လမြတ်၏ နောက်ဆုံး(၁၀)မှ မ ညဥ့်များတွင် ရှိတတ်ကြောင်း မိန့်ဆိုထားပေသည်။ ထို့ကြောင့်ပညာရှင်များသည် ကဒ်ရ်ညဥ့်မြတ်ကို ကြုံဆုံစေရန် အိအ်သေ့ကားဖ်ထိုင်နိုင်းခြင်းဖြစ်သည်။

## ကဒ်ရည့်မြတ် ဖုံးကွယ်သွားရခြင်း

ဗိုခါရီကျမ်းလာဟဒီးဆ်တော်တစ်ရပ်တွင် ဟဇရသ် အိုဗာဒဟ်သခင် ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ်ကြီး (ဆွလ္လလ္လာဟုအလိုင်းဟိဝစလ္လမ်) သည် ကျွန်ုပ်တို့အား ကဒရ်ညဥ့်မြတ်ကို အတိအကျပြောပြရန် ထွက်လာခဲ့ရာ မွတ်စ်လင်မ်တို့ အနက် ပုဂ္ဂိုလ်နှစ်ဦး အချင်းများနေကြသည်။ ထိုအခါ ကိုယ်တော်မြတ်ကြီးက ငါကိုယ်တော်သည် အသင်တို့အား ကဒရ်ညဥ့်မြတ်ကို အတိအကျပြောပြန်ရန် ထွက်ခဲ့ပေသည်။ သို့သော် ပုဂ္ဂိုလ်နှစ်ဦး အချင်းများနေသော ကြောင့် ထိုကဒ်ရည့်မြတ်ကို အတိအကျ မသိရတော့ချေ။ ဤသည်အသင်တို့အဖို့ကောင်းသည်ဟု မျှော်လင့်ရသည်။ သို့ရှိရာ အသင်တို့သည် (၂၉၊၂၇၊၂၅) ရက်များတွင် ထိုညဥ့်ကု ရှာဖွေကြလေကုန်။

မွတ်စ်လင်မ်တို့ကြားဖြစ်ပွားသည့်ပြသနာ၏ အမင်္ဂလာသည် ကဒ်ရည့်ကိုပင် အတိအကျ မသိရတော့ပါ။ ထို့ကြောင့် အချင်းချင်း ပြသနာများ မဖြစ်စေရန် ထိန်းသိမ်းကြရမည်။ အချင်းချင်းကြားဖြစ်ပွားသည့် မည်သည့်ပြသနာကြောင့် အဘယ်သို့သော ဘရ်ကသ်မင်္ဂလာများ ကျွန်ုပ်တို့ထံမှ ပျောက်ကွယ်သွားနေသည်ကို မသိနိုင်ပါ။

## ကဒ်ရည့်မြတ်နှင်ဆုမွန်ထူး

ကဒ်ရည့်မြတ်တွင် မည်သည့်ဆုဒိုအာကိုတောင်းခံရမည်လောဟု ကျွန်ုပ်တို့၏ မိခင်မွန် ဟဇရသ်အာအေ့ရှာသခင်မကြီးက ချစ်နဗီအား မေးလျှောက်ခဲ့ရာ ကိုယ်တော်မြတ်ကြီး (ဆွလ္လလ္လာဟုအလိုင်းဟိဝစလ္လမ်) က ((အလ္လာဟွန်းမ်မ အင်န်းနက အဖုဝန် သုဟိဗ်ဗွလ်အဖ်ဝ ဖအ်ဖုအန်နီ))

အိုအရှင်မြတ်- မုချအရှင်မြတ်သည် အလွန်တရာခွင့် လွှတ်တော်မူသော အရှင်မြတ်ဖြစ်တော်မူသည့်အလျောက် ခွင့်လွှတ်ခြင်းကိုလည်း နှစ်သက်တော်မူသည်။ ထို့ကြောင့် ကျွန်တော်မျိုးအား ခွင့်လွှတ်ချမ်းသာ ပေးသနားတော်မူပါ။

ထို့အတူ ကဒရ်ညဉ့်မြတ်တွင် ကြိုးစားပြီး အရှင်မြတ်၏ အေဗာဒသ်ကို ဆောက်တည်ရမည်။ သောဝ်ဗဟ်အများ ဝန်ချတောင်းပန်ခြင်း၊ မိမိနှင့်အွမ္မသ်ထု တစ်ရပ်လုံးအတွက် ဒိုအာပြုပေးခြင်းများကို ပြုလုပ်သင့်သည်။ တစ်ညလုံး မနိုးကြားနိုင်ပါမူ တတ်နိုင်သရွေ့ နိုးကြားစွာနေရမည်။ အီမာန် ယုံကြည်မှု၊ ဆဝါးဗ်ရလိုသည့်ရမ္မက်များဖြင့် နိုးနိုးကြားကြားနေပါမူ ကျူးလွန်မိခဲ့သည့် ဂိုနာဟ်များမှ လွတ်ငြိမ်းချမ်းသာခွင့် ရရှိမည်ဖြစ်ကြောင်း ဗိုခါရီနှင့် မွတ်စ်လင်မ်ကျမ်းတို့တွင် ဆင့်ပြန်ချက်တစ်ရပ်လာရှိထားသည်။ နဖိလ်နမားဇ် ဆောက်တည်ခြင်း၊ ကုရ်အာန်သိလာဝသ်ပြုခြင်း၊ ဇိက်ရ်ပြုခြင်း၊ သတ်စ်ဗီးဟ် နမားဇ်ဖတ်ခြင်း စသည်တို့ကို စိတ်တိုင်းကျဆောင်ရွက်နိုင်သည်။ အေရှာနှင့်ဖဂျ်ရ်နမားဇ်တို့ကို ဂျမာအသ်နှင့် သွားရောက်ဝတ်ပြုလိုက်ပါမူ တစ်ညဉ့်တာလုံး နိုးကြားစွာအေဗာဒသ်ပြုခြင်း၏ အကျိုးဆဝါးဗ်ကို ရရှိမည်ဖြစ်သည်ဟု မွတ်စ်လင်မ်ကျမ်း ဟဒီးဆ်နံပါတ် (၆၅၆) တွင် လာရှိထားသည်။

## အီးဒ်လမြင်ရင် အလှမပြင်သေးဘဲ ဘဝပြင်ပါ

ရိုဇာဟ် ၊ သရာဝီးဟ် စသည့် အေဗာဒသ်ကျင့်စဉ်ထူးများကို ဆောင်ရွက်ရင်း တနေ့လမြတ်ရမ်ဇန်သည်လည်း ကုန်ဆုံးသွားပေမည်။ မကြာခင် အီးဒ် လ မြင်တော့မည်။ အေမာမ် ဟစံဗစ္စရီ သခင်အမိန့်ရှိသည် - " အီးဒ် လ မြင်သောအခါ ပျော်ရွှင်ပြီး ၊ ရမ်ဇန်လမြင်သောအခါ စိတ်ညစ်

ခဲ့သူသည် အီမာန်ပြည့်ဝသူ မဟုတ်။ ထို့အတူ အီးဒ် ပျော်ရွှင်ရမည့် နေ့ဟူသည် အဝတ်အစားအသစ်ဝတ်ဆင်သူအဖို့ မဟုတ်၊ အီးဒ်ဆိုသည်မှာ အရှင်မြတ်၏ ခြိမ်းချောက်မှုများကို စိုးရိမ်ကြောက်ရွံ့သူ အတွက်သာ ဖြစ်သည်။" ဟဒီးဆ် တော်တစ်ရပ်တွင် အီးဒ်ညဥ့်ကို လိုင်လသွလ် ဂျာအေ့ဇဟ် (ဆုလာဘ်ချီးမြှင့် သောည) ဟုခေါ်ဆိုသည်။ တောင်းဆုများ ပြည့်ဝသော ညများအနက် တစ်ညဖြစ်သည်။

**<u>အီးဒ်ဆိုသည်မှာ</u>**

အရဗီစာပေတွင် အီးဒ်ဆိုသည်မှာ ပျော်ရွှင်ဖွယ်ကောင်းသော အရာ၊ အဖန်တလဲလဲ ပြန်လာသော အရာဟု အဓိပ္ပါယ်ရသည်။ နှစ်စဉ်နှင့် အမျှ အဖန်တလဲလဲ ပျော်ရွှင်ပွဲဆင်နွှဲသည်ကို အကြောင်းပြုပြီး အီးဒ် အမည်မှည့်ခေါ် ခြင်းဖြစ်သည်။

**<u>အီးဒ်နေ့မှာ အပျော်မကျူးဘဲ ပျော်မြူးပါ</u>**

ပျော်ပွဲရွှင်ပွဲဟူသည် လူမျိုးတိုင်း ဘာသာတိုင်းတွင် ရှိပါသည်။ အစ္စလာမ် သာသနာမထွန်းကားမီ အရဗ်လူမျိုးတို့သည်လည်း မိမိတို့ ထုံးတမ်း စဉ်လာအရ ပျော်ရွှင်ရန်အတွက် (၂) ရက်သတ်မှတ် ထားခဲ့ကြသည်။ သို့သော် ထိုပျော်ပွဲရွှင်ပွဲများတွင် အပျော်ကျူးပြီး မဖွယ်ရာသော ကိစ္စများ၊ ရိုင်းပြသော အပြုအမူများ၊ လူမျိုးရေးမုန်းတီးမှုများ အလွန်အကျွံပါဝင်နေခဲ့သည်။

ဤသို့တရားမဲ့ ပရမ်းပတာဖြစ်မှုများကို ကျွန်ုပ်တို့ ကိုယ်တော် မြတ်ကြီး (ဆွလ္လလ္လာဟုအလိုင်းဟိဝစလ္လမ်) တွေ့မြင်သောအခါ ပျော်ရွှင်မှု

လည်းပါ၊ အွမ္မသ်အတွက်လည်း အကျိုးရှိ၊ သဘာဝလည်းကျ၊ ချစ်ခင်မှုများကို ဖော်ဆောင်သည့် ရက်နှစ်ရက်ကို သတ်မှတ်ပေးခဲ့သည်။

မွတ်စ်လင်မ်တို့သည် တရားတော်နှင့်အညီ တစ်လတိတိ ဥပုသ် ဆောက်တည်နိုင်ခြင်းအတွက် ဝမ်းသာခြင်း၊ အရှင့်အား ကျေးဇူးတင်ခြင်းနှင့် ဥပုသ်ဆောက်တည်ရာတွင် ဆာလောင်မှု၏ဒဏ်ကို ကိုယ်တိုင်ရင်ဆိုင် ကြရပြီး အမြဲတမ်းမွတ်မှုကို အဖော်ပြုနေကြရသော ဆင်းရဲသားများကို စာနာတတ် လာပြီး ၎င်းတို့ကို အီးဒ်နေ့တွင် ကူညီထောက်ပံ့ကြသည်။

## ကုရ်အာန်ကျမ်းတော်လာ အီးဒ်သဝဏ်လွှာ

အီးဒ်နေ့၏ ရည်ရွယ်ချက်၊ အီးဒ်နေ့တွင် ဆောင်ရွက်ရမည့်တာဝန် များကို ကျမ်းတော်မြတ်ကုရ်အာန် စူရဟ်ဗကရဟ် အာယသ်(၁၈၅) တွင် အရှင်မြတ်က အောက်ပါအတိုင်း မိန့်ထားတော်မူသည်။ (အသင်တို့သည် သတ်မှတ်ရက်များကို ပြီးပြည့်စုံစွာဖြည့်ဆည်းပြီးနောက် အရှင်မြတ်က အသင်တို့ကို ပြသထားသည့်အတိုင်း ထိုအရှင်မြတ်၏ ကြီးကျယ်ကြောင်းကို ရွတ်ဆိုကြပါလေ။ သို့မှသာ အသင်တို့သည် ထိုအရှင်မြတ်ကို ကျေးဇူး သိသူများ ဖြစ်ကြမည်။)

ထို့ကြောင့် အီးဒ်နေ့တွင် ကျွန်ုပ်တို့သည် "စာရသူအတွက် အားလပ်ရက် မရှိ" ဟူသည့်အတိုင်း အီးဒ်နေ့တွင် အခြားနေ့များထက် တမူထူးပြီး အရှင်မြတ်၏ ကြီးကျယ်ကြောင်းကို ရွတ်ဆိုရသည်။ အခြားနေ့များတွင် မရှိသည့် အီးဒ်နမားဇ်ကို ပျော်ရွှင်စွာ ဝတ်ပြုရသည်။ ထိုအီးဒ်နမားဇ် နှစ်ရကအသ်သည်လည်း အခြားနမားဇ်များနှင့်မတူဘဲ သက္ကဗီးရ်အပို(၆) ကြိမ်ကိုပါဆိုရသည်။ ထိုအီးဒ်နေ့တွင် ကျွန်ုပ်တို့၏တစ်လတာ ရိုဇာထားချိန်

လစ်ဟာခဲ့သည့် ကွက်လပ်များကို ဖြည့်ဆည်းသည့်အနေဖြင့် ဆင်းရဲသားများကို ဖိသ်ရာကြေးပေးဆောင်ရသည်။

**ဖိသ်ရာကြေးပေးဆောင်ခြင်း၏ အခြားသုတများ**

ကိုယ်တော်မြတ်ကြီး (ဆွလ္လာဟုိအလိုင်းဟိဝစလ္လမ်) သည် ဆွဟာဗဟ်တို့အား ဟစ်ဂ်ျရီ (၂) ခုနှစ် အီးဒ်မတိုင်ခင်နှစ်ရက်တွင် ဖိသ်ရာကြေး ပေးဆောင် ခြင်းကို သင်ကြားပေးခဲ့သည်။ ကျွန်ုပ်တို့ဟနဖီ မဇ်ဟပ်တွင် ဖိသ်ရာကြေးပေးခြင်းမှာ ဝါဂျိပ်ဖြစ်သည်။

ဇကားသ်၏ နိဆွားဗ်ကိုပိုင်ဆိုင်သောအသိဉာဏ်ရှိ မွတ်စ်လင်မ်တိုင်းသည် ဂျုံ (၁ပိဿာ၁၀)သား ၊ မုယောဆန်ပေးလိုလျှင် (၂ပိဿာ၂၀)သို့ ယင်းတို့အနက် တစ်မျိုးမျိုး၏ ကာလတန်ဖိုးကို ပေးဆောင်ရမည်။ အီးဒ်နမားဇ် မဖတ်မီပေးလှူခြင်းမှာ အကောင်းဆုံးဖြစ်သည်။ အိမ်ထောင်ဦးစီးသည် အိမ်သူ အိမ်သားများဘက်မှ ပေးဆောင်ရမည်။

မှတ်ချက်။ ။ ဖိသ်ရာကြေးပေးဆောင်ရာတွင် နိဆွားဗ် ပိုင်ဆိုင် မှုမှာ တစ်နှစ်ပြည့်ရန် မလိုအပ်ပါ။

**အီးဒ်နေ့တွင်ပြုကျင့်သင့်သည့် စွန္နသ်တော်များ**

(၁) မိစ္စဝါးက်စားပြီး ဂုစုလ် (ရေချိုးခြင်း)

(၂) မိမိ၌ရှိသော အဝတ်အစားများအနက် အကောင်းဆုံးကို ဝတ်ဆင်ခြင်း

(၃) အမွှေးအကြိုင်သုတ်လိမ်းခြင်း

(၄) အီဒွလ်ဖိသ်ရ် နမားဇ် ဝတ်ပြုရန်မသွားမီ စွန်ပလွံသီး (သို့) အချိုတစ်ခုခု စားခြင်း

(၅) တာဝန်ရှိသူများသည် ဆွဒကဟ် ဖိသ်ရ် ပေးပြီးမှ သွားခြင်း

(၆) အီးဒ်နမားဇ်ကို ဖြစ်နိုင်လျှင် အီးဒ်ဂါ၌ဝတ်ပြုခြင်း

(၇) အီးဒ်ဒဂါ (သို့) ဗလီသို့ တစ်လမ်းမှသွားပြီး အခြားတစ်လမ်းမှ ပြန်လာခြင်း

(၈) အီးဒ်နမားဇ်ဝတ်ပြုရန်သွားနေချိန် အီဒွလ်ဖိသ်ရ်တွင် တိုးတိုးစွာ ၊ အီဒွလ်အသ်ွဟာတွင် အသံဖြင့် အောက်ပါ သက္ကဗီးရ်ကို ဆိုခြင်း

الله أكبرالله أكبر لا إله إلا الله و الله أكبر الله أكبر و لله الحمد

(အောလ္လာဟို့အက္ကဗရ် အောလ္လာဟို့အက္ကဗရ် လာအိလာဟ အိလ်လ္လလ္လာဟို့ ဝေါလ္လာဟို့အက္ကဗရ် အောလ္လာဟို့အက္ကဗရ် ဝလိလ္လာဟိလ်ဟမ်ဒ်)

**<u>အဓိပ္ပါယ်</u>**

အလ္လာဟ်အရှင်မြတ်သည် အကြီးကျယ်ဆုံး ဖြစ်တော်မူသည်။
အလ္လာဟ်အရှင်မြတ်သည် အကြီးကျယ်ဆုံးဖြစ်တော်မူသည်။
အရှင်မြတ်မှအပ အခြားကိုးကွယ်ခြင်းခံထိုက်သူဟူ၍ အလျှင်းမရှိ၊
ထိုအရှင်မြတ်သည် အကြီးကျယ်ဆုံး ဖြစ်တော်မူသည်။
၎င်းထိုအရှင်မြတ်သည် အကြီးကျယ်ဆုံးဖြစ်တော်မူသည်။
အလ္လာဟ်အရှင်မြတ်သည် အကြီးကျယ်ဆုံးဖြစ်တော်မူသည်။
၎င်းချီးကျူးခြင်း အပေါင်းသည် ထိုအရှင်မြတ်အဖို့သာဖြစ်တော်မူသည်။

**<u>ဟန်နဖီမဇ်ဟဗ်အရ အီးဒ်နမားဇ် ဆောက်တည်နည်း</u>**

(၁) အီးဒ်နစ်ခုလုံးအတွက် နစ်ရကအသ်စီ (ဝါဂျိဗ်) အဖြစ်ဝတ်ပြုရသည်။

(၂) အီးဒ်နမားဇ်အတွက် အဇာန်နှင့် အေကာမသ်မဆိုရ။

(၃) အီးဒ်နမားဇ်ဝတ်ပြုနေကြောင်း စိတ်မှ နိယသ်ပြုရမည်။ နှုတ်မှလည်း မိမိကြိုက်နှစ်သက်သည့်ဘာသာဖြင့် နိယသ်ပြုနိုင်သည်။

(၄) ထို့နောက် (သက္ကဗီးရေ့ သဟ်ရီမဟ်) ဆိုလျက် လက်ပိုက်၍ ဆနာ ဆိုရမည်။

(၅) ဆနာဆိုပြီးနောက် သက္ကဗီးရ်အပိုထဲမှ ပထမ သက္ကဗီးရ် ဆိုလျက် လက်နှစ်ဖက်ကိုနားအထိမြှောက်ပြီး မပိုက်ဘဲချထားလိုက်ရမည်။ထို့နောက် ဒုတိယအကြိမ် နားအထိ လက်မြှောက်၍ သက္ကဗီးရ်ဆိုကာ လက်နှစ်ဖက်ကို မပိုက်ဘဲ ချထားရမည်။ တစ်ဖန် တတိယအကြိမ် နားအထိ လက်မြှောက်၍ သက္ကဗီးရ် ဆိုကာ လိုက်ပိုက်လိုက်ရမည်။

(၆) ထို့နောက်အိမာမ်သည် သအောင်ဝုဇ် သပ်စ်မိယဟ် စူရဟ်ဖာသိဟဟ် နှင့်စူရဟ်တွဲပြီး ပထမရကာအသ်၏ ရိုကူပြုမည်။ ဤအတိုင်းအေမာမ်သည် အခြားနမားဇ်များ ဖတ်သကဲ့သို့ ဖတ်သွားမည်။

(၇) ဒုတိယရကာအသ်၌ အေမာမ်သည် အခြားနမားဇ်များနည်းတူ ဦးစွာ စူရဟ်ဖာသိဟဟ်နှင့် စူရဟ်တွဲမည်။ စူရဟ်တွဲပြီးသောအခါ ရှုကူ မသွားသေးဘဲ ကျန်ရှိနေသော သက္ကဗီးရ် အပို (၃)ကြိမ်ကို ဆိုမည်။ ထိုသက္ကဗီးရ်များဆိုသောအခါ နားအထိလက်မြှောက်ပြီး လက်မပိုက်ဘဲ ချထားရမည်။

(၈) ထို့နောက် လက်မမြှောက်ဘဲ စတုတ္ထသက္ကဗီးရ်ဆိုပြီး ရှုကူအ်ပြုကာ ပုံမှန်အတိုင်း နမားဇ်ကို အဆုံးသတ်ရမည်။

(၉) နမားဇ်ပြီးလျှင် အေမာမ်သည် မတ်တပ်ရပ်ကာ ခွသ်ဗဟ်ဖတ်မည်။ ထိုခွသ်ဗာကိုနားထောင်ခြင်းမှာလည်း ဝါဂိုဗ်တာဝန်ဖြစ်သည်။ ခွသ်ဗာ ဖတ်နေချိန် ပရိသတ်အပေါင်းသည် တိတ်ဆိတ်စွာ နားထောင်ရမည်။ အီးဒ်နှစ်ခုလုံးတွင် ခွသ်ဗာနှစ်ခုစီဖတ်ရသည်။ ခွသ်ဗာနှစ်ခုအကြား ထိုင်ခြင်းသည် စွန**န**သ်ဖြစ်သည်။

## ရှောက်ဝလ်လမြတ်၏ (၆) ရက်ရှိဇာ

မွတ်စ်လင်မ်ကျမ်း ဟဒီးဆ် အမှတ် (၆၈၁) တွင် ဟဇရသ်အဗူအိုင်ယူးဗ်သခင်ထံမှ ဆင့်ပြန်ချက်တစ်ရပ်လာရှိသည်။ ကိုယ်တော်မြတ် (ဆွလ္လလ္လာဟိုအလိုင်းဟေ့ဝစလ္လမ်) အမိန့်ရှိတော်မူသည်။ အကြင်သူသည် ရမ်ဇန်လမြတ်၏ ရှိဇာကို စောင့်ထိန်းပြီးနောက် ရှောက်ဝလ်လမြတ်တွင်လည်း ဆက်လက်ပြီး (၆) ရက်ရှိဇာထားပါမူ ထိုသူသည် တစ်သက်လုံး ရှိဇာထား သကဲ့သို့ဖြစ်သည်။

ထို(၆) ရက်ရှိဇာကို ခွဲ၍ဖြစ်စေ၊ ဆက်တိုက်ဖြစ်စေ ရှောက်ဝလ်လအတွင်းထားနိုင်သည်။

မှတ်ချက်။ ။ တစ်သက်လုံးရှိဇာထားခြင်း၏ ဆဝါးဗ်ရရှိခြင်းကို အေမာမ် နဝဝီသခင်ကြီးက အောက်ပါအတိုင်းရှင်းပြထားပါသည်။

ကျမ်းတော်မြတ်ကုရ်အာန်တွင် ကောင်းမှုတစ်ခုအတွက် (၁၀) ဆအကျိုးရမည်ဟု အမိန့်တော်လာရှိသည်။ ရမ်ဇန်တစ်လသည် (၁၀) လနှင့်ညီမျှသည်။ ရှောက်ဝလ်၏ (၆) ရက်သည် ရက်(၆၀) = ၂လနှင့်ညီမျှသည်။ ဤသို့ဖြင့် (၁၂) လုံးရှိဇာထားခြင်း၏ အကျိုးကိုရရှိမည်ဖြစ်သည်။

ဤစာအုပ်တွင်

(၁) ရမ်ဇာန်လအကြောင်းနှင့် ယင်းရမ်ဇန်လကို အကျိုးရှိစွာ ကုန်ဆုံးနည်းများ

(၂) ရှိဇာထားစဉ် ကျင့်ရန်ကြဉ်ရန်များနှင့်သရာဝီးဟ်အကြောင်း

(၃) အိအ်သေ့ကားဖ် ထိုင်ရခြင်း၏ရည်ရွယ်ချက်

(၄) အီးဒ်နေ့ဆိုင်ရာ သုတအဖြာဖြာ

(၅) ရှောက်ဝလ်လမြတ်တွင် (၆) ရက်ရှိဇာထားရခြင်း စသည်တို့ကို အကျဉ်းရုံးဖော်ပြထားပါသည်။